အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် JOIN Global Myanmar Co., Ltd. မှ မျိုးကြက်ခြံနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - JOIN Global Myanmar Co., Ltd. |
| | ကမကထပြုသူ | - Mr. Park Jeung Howan |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>JOIN Co., Ltd. မှ ၉၀ % (ကိုရီးယား)<br>Mr. Han Jae Kwon မှ ၁၀ % (ကိုရီးယား) |
| | လုပ်ငန်းအမျိုးအစား | - မျိုးကြက်ခြံနှင့်ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင် အမှတ်(၈)၊ ကွင်းအမှတ် (၁၄၁၃)၊ ဘော်လှိုင်ကွင်း၊ ရှောက်ကုန်း ကျေးရွာအုပ်စု၊ တပ်ကုန်းမြို့နယ်၊ ဥတ္တရခရိုင်၊ နေပြည်တော်ရှိ မြေဧရိယာ (၂.၃၆)ဧက<br>- ဦးပိုင် အမှတ်(၉၈က)၊ကွင်းအမှတ် (၁၄၁၂)၊ နောင်ခမ်းကွင်း၊ ရှောက်ကုန်း ကျေးရွာအုပ်စု၊ တပ်ကုန်းမြို့နယ်၊ ဥတ္တရခရိုင်၊ နေပြည်တော်ရှိ မြေဧရိယာ (၆.၇၈)ဧက<br>- ဦးပိုင်အမှတ် ၄၂/၁၄၁၊ ကွင်းအမှတ် (၁၄၉၈)၊ အုန်းနဲ့တာကွင်း၊ ပုဒ္ဒန်ဆိပ်ကျေးရွာအုပ်စု၊ ပုဗ္ဗသီရိမြို့နယ်၊ ဥတ္တရခရိုင်၊ နေပြည်တော်ရှိ မြေဧရိယာ (၈.၉၆)ဧက |
| ၃။ | မြေပိုင်ရှင် | - ဦးသိန်းဇော် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၁၈.၁ ဧက (၇၃၂၄၈.၁၀၁ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်တစ်စတုရန်းမီတာလျှင် ကျပ် ၁၀၄.၃၀ နှုန်းဖြင့် ၇၃၂၄၈.၁၀၁ စတုရန်းမီတာအတွက် ကျပ် ၇,၆၄၀,၀၀၀ |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်း မတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၅.၀၀ သန်း |

<table>
<tr><td>၆။</td><td>ဝန်ထမ်းအင်အား</td><td>- ၅၃ ဦး</td></tr>
<tr><td></td><td>ပြည်တွင်း</td><td>- ၅၁ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၁၃၃ နှင့် အမြင့်ဆုံးလစာ US$ ၁,၀၈၃ ဖြစ်ပါ သည်။)</td></tr>
<tr><td></td><td>ပြည်ပ</td><td>- ၂ ဦး(ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၂၅၀ နှင့် အမြင့်ဆုံးလစာ US$၃,၁၆၇ ဖြစ်ပါသည်။)</td></tr>
<tr><td>၇။</td><td>ရောင်းချမည့်စနစ်</td><td>- ၁၀၀% ပြည်တွင်းရောင်း</td></tr>
<tr><td></td><td>နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်</td><td>
<table>
<tr><th>စဉ်</th><th>ပစ္စည်း အမျိုးအစား</th><th>အရေအတွက် (Head)</th><th>ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Head)</th></tr>
<tr><td>(က)</td><td>Day Old Chick (DOC)</td><td>၂,၅၀၀,၀၀၀</td><td>၅၅၀</td></tr>
</table>
</td></tr>
<tr><td>၈။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)</td><td>- ၃,၁၀၈,၀၀၀ kWh</td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>- JOIN Global Myanmar Co., Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင် မိတ္တူ၊ MOA, AOA တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ နိုင်ငံကူး လက်မှတ်မိတ္တူများ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးသိန်းဇော်နှင့် JOIN Global Myanmar Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)နှင့် အဆောက်အဦ ပုံစံတို့ကိုတင်ပြထားပါသည်။<br>- JOIN Co., Ltd. အမည်ဖြင့် ကိုရီးယားနိုင်ငံရှိ Korea Development Bank တွင် ၁၈-၁၀-၂၀၁၇ ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၉,၄၈၆,၆၀၄.၉၆ ရှိကြောင်း Statement of Balance တင်ပြထားပါသည်။<br>- မီးဘေး ကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်း ရေးစီမံချက်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| | | - မြေအထောက်အထားနှင့် ပတ်သက်၍ ဦးပိုင် အမှတ်(၈)၊ ကွင်းအမှတ် (၁၄၁၃)၊ ဘော်လှိုင်ကွင်းရှိ မြေဧရိယာ (၂.၃၆) ဧကနှင့် ဦးပိုင်အမှတ်(၉၈က)၊ ကွင်းအမှတ်(၁၄၁၂)၊ နောင်ခမ်းကွင်းရှိ မြေဧရိယာ (၆.၇၈)ဧက အတွက် မြို့နယ်လယ်ယာမြေ စီမံခန့်ခွဲရေးနှင့် စာရင်းအင်း ဦးစီးဌာနမှ လယ်ယာမြေ စီမံခန့်ခွဲမှု အဖွဲ့သို့ မြေစာရင်းပုံစံ (၁၀၅/၁၀၆) ရေးကူးခွင့် တင်ပြစာများ၊ ရှောက်ကုန်းကျေးရွာအုပ်စု၊ အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်များ၊ ပတ်ဝန်းကျင် တောင်သူများ၏ ထောက်ခံချက်များ၊ မြို့နယ်စိုက်ပျိုးရေး ဦးစီးဌာန၏ သဘောထားမှတ်ချက်များ၊ တပ်ကုန်းမြို့နယ် လမ်းဦးစီးဌာန၏ ထောက်ခံချက်များ၊ မြို့နယ်လယ်ယာမြေ စီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန၏ သဘောထား မှတ်ချက်၊ တည်နေရာ အညွှန်းပြမြေပုံ၊ မြေစာရင်းပုံစံ ၁၀၅/၁၀၆ တို့ကို တင်ပြထားပါသည်။<br>- ဦးပိုင်အမှတ် ၄၂/၁၄၁၊ ကွင်းအမှတ် (၁၄၉၈)၊ အုန်းနဲ့တာကွင်း၊ပုဇွန်ဆိပ်ကျေးရွာအုပ်စု၊ ပုဗ္ဗသီရိမြို့နယ်၊ နေပြည်တော်ရှိ မြေဧရိယာ (၈.၉၆) ဧက အတွက် မြေအထောက်အထား အဖြစ် လယ်ယာ မြေအခြားနည်းအသုံးပြုခွင့် ရရှိရန်အတွက် မြေစာရင်းပုံစံ (၁၀၅/၁၀၆) ရေးကူးခွင့်လျှောက်ထားစာအား မြို့နယ် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ ခရိုင်အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနသို့ တင်ပြထားသည့်စာ တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-၀၁၄၆ တွင် အကျုံးဝင် ပါသည်။<br>- အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂) ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသော ဒေသများတွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| | | - ဦးပိုင် အမှတ်(၈)၊ ကွင်းအမှတ် (၁၄၁၃)၊ ဘော်လှိုင်ကွင်း၊ ရောက်ကုန်း ကျေးရွာ အုပ်စု၊ တပ်ကုန်းမြို့နယ်၊ ဥတ္တရခရိုင်၊ နေပြည်တော်ရှိ မြေဧရိယာ (၂.၃၆)ဧကအတွက် ရရှိထားသော မြေစာရင်းပုံစံ(၁၀၅/၁၀၆) သည် အဆင့်မြင့်ကြက်သားပေါက် လုပ်ငန်းမြေနေရာ အသုံးပြုရန်အတွက် ဖြစ်ပြီး ဦးပိုင်အမှတ် (၉၈က)၊ ကွင်းအမှတ် (၁၄၁၂)၊ နှောင်ခမ်းကွင်း၊ ရောက်ကုန်းကျေးရွာ အုပ်စု၊ တပ်ကုန်းမြို့နယ်၊ ဥတ္တရခရိုင်၊ နေပြည်တော်ရှိ မြေဧရိယာ (၆.၇၈)ဧကအတွက် ရရှိထားသော မြေစာရင်းပုံစံ (၁၀၅/ ၁၀၆)သည် အဆင့်မြင့်အသားတိုးကြက်မွေးမြူရေးလုပ်ငန်း မြေနေရာအသုံးပြုရန်အတွက် ရေးကူးထားကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- စက်ပစ္စည်းအမေရိကန်ဒေါ်လာ ၁,၅၇၅,၅၆၆ဖိုးအား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်းနှင့် တင်သွင်းမည့် စက်ပစ္စည်း ပုံများ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းအတွက် Parent stock အား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်လျှောက်ထားလွှာ (ပုံစံ-၆)နှင့် မြေအသုံးပြုခွင့် (ပုံစံ ၇-က) တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ ခ-၀၀၉/ ၂၀၁၇( ၉၂၆ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် JOIN Global Myanmar Co., Ltd. မှ မျိုးကြက်ခြံနှင့်ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားသမ္မတနိုင်ငံ JOIN Co., Ltd. မှ ၉၀ % နှင့် Mr. Han Jae Kwon မှ ၁၀ % အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် JOIN Global Myanmar Co., Ltd. တည်ထောင်ပြီး ဦးပိုင်အမှတ် (၈)၊ ကွင်းအမှတ်(၁၄၁၃)၊ ဘော်လှိုင်ကွင်း၊ ဦးပိုင်အမှတ် (၉၈က)၊ ကွင်းအမှတ် (၁၄၁၂)၊ နောင်ခမ်းကွင်း၊ ရှောက်ကုန်းကျေးရွာအုပ်စု၊ တပ်ကုန်းမြို့နယ်၊ ဥတ္တရခရိုင်၊ နေပြည်တော်နှင့် ဦးပိုင်အမှတ် (၄၂/၁၄၁)၊ ကွင်းအမှတ် (၁၄၉၈)၊ အုန်းနဲ့တာကွင်း၊ ပုဇွန်ဆိပ်ကျေးရွာအုပ်စု၊ ပုဗ္ဗသီရိမြို့နယ်၊ နေပြည်တော်ရှိ စုစုပေါင်း မြေဧရိယာ ၁၈.၁ ဧက (၇၃၂၄၈.၁၀၁ စတုရန်းမီတာ)ကို ငှားရမ်း၍ မျိုးကြက်ခြံနှင့်ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးသိန်းဇော်နှင့် မြေငှားသူ JOIN Global Myanmar Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)နှင့် အဆောက်အဦပုံစံ တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ၅၀ နှစ် ဖြစ်ပါသည်။ မြေအကျယ်အဝန်းမှာ စုစုပေါင်းမြေဧရိယာ ၁၈.၁ ဧက(၇၃၂၄၈.၁၀၁ စတုရန်းမီတာ) ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်တစ်စတုရန်းမီတာလျှင် ၁၀၄.၃၀ ကျပ်နှုန်းဖြင့် ၇၃၂၄၈.၁၀၁ စတုရန်း မီတာ အတွက် ၇,၆၄၀,၀၀၀ ကျပ် ဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်း ကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၅.၀၀ သန်း ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၅၁ ဦးနှင့် ပြည်ပဝန်ထမ်း ၂ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၅၃ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၃၃ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၀၈၃ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁,၂၅၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၃,၁၆၇ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်း၌ ရောင်းချမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Head) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/Head) |
|---|---|---|---|
| (က) | Day Old Chick (DOC) | ၂,၅၀၀,၀၀၀ | ၅၅၀ |

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **နေပြည်တော်ကောင်စီမှ** အဆင့်မြင့် အသားတိုးကြက် မွေးမြူရေးလုပ်ငန်းနှင့် အဆင့်မြင့် ကြက်သားဖောက် လုပ်ငန်းလုပ်ကိုင်ရန်အတွက် ဦးပိုင်အမှတ် (၈)နှင့် ဦးပိုင်အမှတ် (၉^က^)တွင် ဆောင်ရွက်ခွင့်အတွက် ကန့်ကွက်ရန်မရှိကြောင်းနှင့် ဦးပိုင်အမှတ် (၄၂/၁၄၁)တွင် ဆောင်ရွက်ခွင့်အတွက် အခြားနည်း အသုံးပြုခွင့် ရှိ/မရှိ မြေဆိုင်ရာ ကိစ္စရပ်များ စိစစ်တင်ပြရန် လိုအပ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ မွေးမြူရေးလုပ်ငန်း ကျင့်စဉ် (GAHP)နှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကိုဆောင် ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (ဂ)**

၈။ ငွေရေးကြေးရေး အထောက်အထားအဖြစ် JOIN Co., Ltd. အမည်ဖြင့် ကိုရီးယားနိုင်ငံရှိ Korea Development Bank တွင် ၁၈-၁၀-၂၀၁၇ ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၉,၄၈၆,၆၀၄.၉၆ ရှိကြောင်း Statement of Balance တင်ပြထားပါသည်။

၉။ JOIN Global Myanmar Co., Ltd. မှ မီးဘေး ကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၀။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၁/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင် ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

(ခ) ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ JOIN Global Myanmar Co., Ltd. မှ မျိုးကြက်ခြံနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## JOIN Global Myanmar Co., Ltd. ၏
## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | JOIN Global Myanmar Co., Ltd. | 1.JOIN Co., Ltd. | 132, Cheongo-ro, Oseong-myeon, Pyeongtaek-si, Gyeonggi- do, Republic of Korea |
| | | (a) Mr. Park Jeung Howan<br>Korean<br>PP. No. M-52341335<br>Managing Director | 203-102, 30 Pangyo-ro, Bundang-gu, Seongnam- si, Gyeonggi-do, Republic of Korea. |
| | | (b) Mr. Shin Hyun Kwan<br>Korean<br>PP. No. M 44722529<br>Director | 80-20c Seocheonseo-ro, 12 beon-gil, Giheung-gu, Yongin-si, Gyeonggi-do, Republic of Korea. |
| | | (c) Mr. Sagong Kwanduck Ban<br>Korean<br>PP. No. M 01391825<br>Director | Kangnam Maeul Gyeryong Richeville 707-391, 54 Gangnamdong-ro, Giheung-gu, Yongin-si Gyenggi-do. |
| | | 2. Mr. Han Jae Kwon<br>Korean<br>PP. No. ML 4335262<br>Shareholder | B 2106 56 Eonju-ro 30-gil Gangnam-gu, Seoul, Republic of Korea |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၄၂၂၅၂၅၃၇၅

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးကောင်းထက်ဇော်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - မျိုးကြက်ခြံနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၂၄၈ ဖက်ဖ်စီ/၂၀၁၇-၂၀၁၈ (ရက)(၂၁-၆-၂၀၁၇)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၂၀-၁၂-၂၀၁၇

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - Korea Development Bank

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## နေပြည်တော်ကောင်စီ

စာအမှတ်၊ ၇ / ၁ - ၂၁ ( ၅၈၁၉ ) / ဦး ၆
ရက် ဗွဲ ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံတင်ပြခြင်း**

ပြည်ထောင်စုနယ်မြေ၊ နေပြည်တော်၊ တပ်ကုန်းမြို့နယ်၊ ရှောက်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၄၁၂)၊ နှောင်ခမ်းကွင်း၊ ဦးပိုင်အမှတ်(၉၈က)ရှိ ယာမြေဧရိယာ(၆.၇၈)ဧကနှင့် ကွင်းအမှတ်(၁၄၁၃)၊ ဘော်လှိုင်ကွင်း၊ ဦးပိုင်အမှတ်(၈)ရှိ မြေဧရိယာ(၂.၃၆)ဧကတို့အား Join Global Myanmar ကုမ္ပဏီနှင့်ပူးပေါင်း၍ အဆင့်မြင့်အသားတိုးကြက်မွေးမြူရေးလုပ်ငန်းနှင့် အဆင့်မြင့်ကြက်သားဖောက်လုပ်ငန်းလုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခွင့်ပြုပါရန် ဦးသိန်းဇော်၊ ၁၂/ဥကတ(နိုင်)၁၄၀၀၈၆ မှ တင်ပြမှုအပေါ် ဥတ္တရခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနနှင့် နေပြည်တော်ရင်းနှီးမြှုပ်နှံမှုကော်မတီတို့မှ ထောက်ခံတင်ပြလာမှုနှင့်စပ်လျဉ်း၍ (၂၅-၁၀-၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သော နေပြည်တော်ကောင်စီ အစည်းအဝေးအမှတ်စဉ်(၃၆/၂၀၁၇)၊ ဆုံးဖြတ်ချက်(၉)အရ အောက်ဖော်ပြပါအချက်များနှင့်ကိုက်ညီမှုရှိပါ၍ နေပြည်တော်ကောင်စီအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံအပ်ပါသည်-

(က) တင်ပြမြေနေရာသည် လူနေအိမ်များနှင့်ဝေးကွာ၍ ကျန်းမာရေးနှင့်ကိုက်ညီပြီး ပြဿနာမရှိနိုင်ခြင်း၊

( ခ ) ခွင့်ပြုချက်ရရှိပြီး လုပ်ငန်းဆောင်ရွက်နိုင်ပါက ပတ်ဝန်းကျင်ကျေးရွာများရှိ ပြည်သူများ အလုပ်အကိုင်ရရှိနိုင်ခြင်း၊

( ဂ ) မြို့နယ်အတွင်းရှိ ကြက်မွေးမြူရေးလုပ်ငန်းရှင်များအတွက် ကြက်မျိုးကောင်းမျိုးသန့်များ၊ နည်းပညာများရရှိနိုင်ပြီး မြို့နယ်၏ မွေးမြူရေးကဏ္ဍတိုးတက်လာနိုင်ခြင်း။

ဥက္ကဋ္ဌ (ကိုယ်စား)
( တင်ထွဋ်၊ ကောင်စီဝင် )

မိတ္တူကို

အတွင်းရေးမှူး၊ နေပြည်တော်ရင်းနှီးမြှုပ်နှံမှုကော်မတီ
လုပ်ငန်းလည်စာတွဲ
ရုံးလက်ခံ

C 2/ KTW (15)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်ကောင်စီ

စာအမှတ်၊ ၇ / ၁ - ၁၀ (၆၅၄၀) / ဦး ၆

ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကောင်မရှင်၏ (၁၇.၁၁.၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၀၉/၂၀၁၇(၁၈၃၈)

JOIN Global Myanmar Co.,Ltd. ၏ ပုဗ္ဗသီရိမြို့နယ်၊ ပုခွန်ဆိပ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၄၉၈)၊ အုန်းနဲ့တာကွင်း၊ ဦးပိုင်အမှတ်(၄၂/၁၄၁)ရှိ မြေဧရိယာ (၈.၉၆)ဧကပေါ်တွင် ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုနှင့်စပ်လျဉ်းပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန်နှင့် သတ်မှတ်ကာလအတွင်း အချိန်မီမပြန်ကြားနိုင်ပါက သဘောတူညီသည်ဟုမှတ်ယူပြီး ဆက်လက်ဆောင်ရွက်မည်ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုနှင့်စပ်လျဉ်း၍ အောက်ပါအချက်များအား ဆောင်ရွက်ရန်လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်လိုသောမြေနေရာ ကွင်းအမှတ် (၁၄၉၈)၊ အုန်းနဲ့တာကွင်း၊ ဦးပိုင်အမှတ် (၄၂/၁၄၁)ရှိ မြေဧရိယာ (၈.၉၆)ဧကပေါ်တွင် ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းအား ခွင့်ပြုနိုင်သော်လည်း အခြားနည်းအသုံးပြုခွင့် ရှိ/မရှိ မြေယာဆိုင်ရာကိစ္စရပ်များ စိစစ်တင်ပြရန်လိုအပ်ခြင်း၊

(ခ) ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်၊ (၁၅/၂၀၁၇)အရ သက်ဆိုင်ရာဝန်ကြီးဌာနများ၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတွင် တိရစ္ဆာန်များ စီးပွားဖြစ်မွေးမြူထုတ်လုပ်ရောင်းချခြင်း ISIC 014 နှင့် မျိုးခြံ/သားပေါက်ထုတ်လုပ်ရောင်းချခြင်း(ကြက်/ဘဲ/ငုံး) ISIC 0146 ပါဝင်သဖြင့် ကော်မရှင်မှ စိစစ်ခြင်း၊ ခွင့်ပြုခြင်း ဆောင်ရွက်နိုင်သောလုပ်ငန်းဖြစ်ခြင်း၊

(ဂ) အဆိုပါလုပ်ငန်းသည် ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁၃/၂၀၁၇)အရ ရင်းနှီးမြှုပ်နှံမှုမြှင့်တင်သည့် ကဏ္ဍတွင်ပါဝင်ခြင်း၊ ပြည်ထောင်စုနယ်မြေအတွင်း တည်ရှိခြင်းတို့ကြောင့် ကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီးသည့်နောက်ပိုင်းတွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ်ခံစားရရှိနိုင်သည့် လုပ်ငန်းဖြစ်ခြင်း၊

(ဃ) ရင်းနှီးမြှုပ်နှံမှုသည် လုပ်ငန်းပမာဏပေါ်မူတည်၍ အတည်ပြုလျှောက်ထားလွှာ သို့မဟုတ် အဆိုပြုလွှာကို ကော်မရှင်ရုံးသို့ တင်ပြရမည်ဖြစ်ပြီး၊ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြားချက်၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်သွားရန် လိုအပ်ခြင်း။

ဥက္ကဋ္ဌ (ကိုယ်စား)
( တင်ထွဋ်၊ ကောင်စီဝင် )

မိတ္တူကို

လှည့်လည်စာတွဲ
ရုံးလက်ခံ

MIC 380 30/11

နောက်ဆက်တွဲ-ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၉၁၀ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၃၀ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၁၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၂/ခ-၀၀၉/၂၀၁၇(၈၃၉)
(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ ၂၄-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ညကခ/ သထ/ MIC/ ၂၀၁၇ (၆၁၉)

၁။ ကိုရီးယားသမ္မတနိုင်ငံ JOIN Co., Ltd မှ ၉၀% နှင့် Mr. Han Jpe Kwan မှ ၁၀% အစုရှယ်ယာများ ထည့်ဝင်ကာ ရာနိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် JOIN Global Myanmar Co., Ltd တည်ထောင်ပြီး နေပြည်တော်၊ တပ်ကုန်းမြို့နယ်နှင့် ပုဗ္ဗသီရိမြို့နယ်တို့ရှိ မြေဧရိယာ (၁၈.၁၀)ဧကကို ငှားရမ်း၍ မျိုးခြံနှင့် ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ပေးပို့လာပါသည်။

၂။ JOIN Global Myanmar Co., Ltd သည် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ညွှန်ကြားချက်များ၊ သတ်မှတ်ထားသည့် မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP) နှင့်အညီ မျိုးခြံနှင့်ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဖြင့် ပြည်တွင်းဈေးကွက်သို့ ဖြန့်ဖြူးခြင်းလုပ်ဆောင်မည်ဆိုပါက ပြည်တွင်းမွေးမြူရေးကဏ္ဍ ဖွံ့ဖြိုးရေးအတွက်အထောက်အကူပြုသော လုပ်ငန်းဖြစ်ပါကြောင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် JOIN Global Myanmar Co., Ltd မှ မျိုးခြံနှင့် ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP) နှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

30/11/17

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
(၂) ရုံးလက်ခံ
(၃) မျှော

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန**
**မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန**

စာအမှတ်၊ ညကခ/သထ/MIC /၂၀၁၇ (၆၁၉)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်

သို့

**ပြည်ထောင်စုဝန်ကြီး**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားပေးပို့ခြင်း**

ရည်ညွှန်းချက်။ ပြည်ထောင်စုဝန်ကြီးရုံး၏ (၂၁-၁၁-၂၀၁၇) ရက်စွဲပါ စာအမှတ်၊ ၃/၂၀၀၀/ မွေးရေကျေး (၈၉၃/၂၀၁၇)

၁။ ကိုရီးယားသမ္မတနိုင်ငံ JOIN Co., Ltd. မှ၉၀% နှင့် Mr. Han Jpe Kwan မှ ၁၀ % အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် JOIN Global Myanmar Co., Ltd. တည်ထောင်ပြီး နေပြည်တော်၊ ဥတ္တရခရိုင်၊ တပ်ကုန်း မြို့နယ်၊ ရှောက်ကုန်းရပ်ကွက်၊ ကွင်းအမှတ် (၁၄၁၃)၊ ဘော်လှိုင်ကွင်း၊ ဦးပိုင်အမှတ် (၈) ရှိ မြေဧရိယာ (၂.၃၆) ဧက၊ ကွင်းအမှတ် (၁၄၁၂)၊ နောင်ခမ်းကွင်း၊ ဦးပိုင်အမှတ် (၉၈) ရှိ မြေဧရိယာ (၆.၇၈) ဧကနှင့် ပုဗ္ဗသီရိမြို့နယ်၊ ပုဇွန်ဆိပ်ရပ်ကွက်၊ ကွင်းအမှတ် (၁၄၉၈)၊ အုန်းနဲ့တာကွင်း၊ ဦးပိုင်အမှတ် (၄၂/၁၄၁)ရှိ မြေဧရိယာ (၈.၉၆) ဧက၊ စုစုပေါင်းမြေဧရိယာ (၁၈.၁၀) ဧကကို ငှားရမ်း၍ မျိုးခြံနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ရန် ရည်ညွှန်းပါ စာဖြင့် အကြောင်းကြားလာပါသည်။

၂။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ညွှန်ကြားချက်များ၊ သတ်မှတ်ထားသည့် မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP) နှင့်အညီ မျိုးခြံနှင့် ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဖြင့် ပြည်တွင်းဈေးကွက်သို့ ဖြန့်ဖြူးခြင်း လုပ်ဆောင်မည်ဆိုပါက ပြည်တွင်းမွေးမြူရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူပြုသော လုပ်ငန်းဖြစ်ပါသည်။

/

၃။ သို့ဖြစ်ပါ၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ GAHP နှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်းနှင့် ခွင့်ပြုသင့်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ဒေါက်တာရဲထွန်းဝင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်ရုံး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

မျှောစာတွဲ

လက်ခံစာတွဲ

MIC 34/ ၉၃/၄

နောက်ဆက်တွဲ-ဂ

အမှတ်----------
ရက်စွဲ----------
ရန်ကုန်မြို့

ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၁၀၁/ MIC (OSS)/ ၀၁ (၁၉၀/၁၇ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **JOINT Global Myanmar Company Limited မှ မျိုးခြံနှင့်ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၁၀၉/ ၂၀၁၇ (၈၃၅)

၁။ ကိုရီးယားသမ္မတနိုင်ငံ JOIN Co., Ltd. မှ ၉၀% နှင့် Mr. Han Jpe Kwan မှ ၁၀% အစုရှယ်ယာများထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် JOIN Global Myanmar Co Ltd. တည်ထောင်ပြီး နေပြည်တော်၊ ဥတ္တရခရိုင်၊ တပ်ကုန်းမြို့နယ်၊ ကွင်းအမှတ်- ၁၄၁၃၊ ဘော်လှိုင်ကွင်း၊ ဦးပိုင်အမှတ်- ၈ ရှိ မြေဧရိယာ ၂.၃၆ ဧက၊ ကွင်းအမှတ်- ၁၄၁၂၊ နောင်ခမ်းကွင်း၊ ဦးပိုင်အမှတ်- ၉၈(က) ရှိ မြေဧရိယာ ၆.၇၈ ဧကနှင့် ပုဗ္ဗသီရိမြို့နယ်၊ ပုဇွန်ဆိပ်ကျေးရွာအုပ်စု၊ အကွက်အမှတ်- ၁၄၉၈၊ အုန်းနဲ့တောကွင်း၊ ဦးပိုင်အမှတ်- ၄၂/၁၄၁ ရှိ မြေဧရိယာ ၈.၉၆ ဧက၊ စုစုပေါင်းမြေဧရိယာ ၁၈.၁ ဧက (၇၃,၂၄၈.၀၉ စတုရန်းမီတာ) တွင် မျိုးခြံနှင့်ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လိုကြောင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦး ရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား နေပြည်တော်၊ ဥတ္တရခရိုင်၊ တပ်ကုန်းမြို့နယ်၊ ကွင်းအမှတ်( ၁၄၁၃)၊ ဘော်လှိုင်ကွင်း၊ ဦးပိုင်အမှတ်- (၈)၊ ကွင်းအမှတ် (၁၄၁၂)၊ နောင်ခမ်းကွင်း၊ ဦးပိုင်အမှတ်- (၉၈-က) နှင့် ပုဗ္ဗသီရိမြို့နယ်၊ ပုဇွန်ဆိပ်ကျေးရွာအုပ်စု၊ အကွက်အမှတ် (၁၄၉၈)၊ အုန်းနဲ့တောကွင်း၊ ဦးပိုင်အမှတ်(၄၂/၁၄၁) ရှိ စုစုပေါင်း မြေဧရိယာ ၇၃,၂၄၈.၁၂ စတုရန်းမီတာအကျယ်ရှိ မြေအားငှားရမ်း၍ လိုအပ်သည့်အဆောက်အဦများ တည်ဆောက်ကာလုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် မျိုးကြက်မွေးမြူ၍ မျိုးကြက်ဥများထုတ်လုပ်ကာ ကြက်သားပေါက်များအား ပထမနှစ်တွင် (၂) သိန်းကျော်မှ (၁၀) နှစ်အတွင်း (၁) သန်းကျော်ထိ တိုးမြှင့် ထုတ်လုပ် ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၁.၅%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) JOINT Global Myanmar Company Limited မှ မျိုးခြံနှင့် ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများနှင့်အရည်များကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့်လေထုညစ်ညမ်းစေခြင်း၊

(ခ) မျိုးကြက်မွေးမြူခြင်းနှင့် ကြက်သားဖောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ကြက်ဥအခွံများ၊ ကြက်ဥပုပ်များအား စနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထု ညစ်ညမ်းစေနိုင်ခြင်း၊

(ဂ) ကြက်ဥများကို သားဖောက်ခြင်းမပြုမီ ပိုးသတ်ဆေးဖြန်းခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများနှင့် toxic compound များကြောင့် ပတ်ဝန်းကျင် မြေထု/ရေထုညစ်ညမ်းခြင်းနှင့် လုပ်သားများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊

(ဃ) မျိုးကြက်များအားမွေးမြူထားစဉ် ကြက်ခြံအတွင်းမှထွက်ရှိလာမည့် ကြက်ချေးများ၊ အစာကြွင်းအစာကျန် ဆေးကြောသည့် နေရာများမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်/ပစ္စည်းများနှင့် အစာသိုလှောင်သည့်နေရာနှင့် ကြက်မွေးမြူထားသည့် ပတ်ဝန်းကျင်နေရာများမှ ဆက်စပ်အနံ့ဆိုးများ ပျံ့နှံ့ရောက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်ရှိပြည်သူလူထုကို ကျန်းမာရေးထိခိုက်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ JOINT Global Myanmar Company Limited မှ မျိုးခြံနှင့်ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေ

မည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီ မျိုးစ်ခြ်နှင့် ကြက်သားပေါက် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည့် နေရာ (၃) ခုအား သီးခြားစီခွဲ၍ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံ ကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံ စာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွား မည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦး စီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည် ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအ ပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင် ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြ ရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက် ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊



(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
22/11/17

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
တာဝန်ခံအရာရှိ၊ နေပြည်တော်ကောင်စီနယ်မြေ
ရုံးလက်ခံ